**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Vardaan Steel & Agro Science Limited မှ စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | -Vardaan Steel & Agro Science Limited |
| | ရင်းနှီးမြှုပ်နှံသူ | - ဒေါ်ကေခိုင်မြင့် |
| | ရင်းနှီးမြှုပ်မှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချ ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၁၃/၃၁၁၅/၃၊၂၅/၂၊၂၆/၁)၊ဘုရားကလေးကွင်း၊ ကွင်းအမှတ်(၁၇၀)၊ ဘုရားကလေးကျေးရွာအုပ်စု၊ ဒေးဒရဲမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးရှိမြေ ၁၇.၆၇ ဧက |
| ၃။ | မြေပိုင်ရှင် | - ဒေါ်ကေခိုင်မြင့် |
| | မြေအကျယ်အဝန်း | - ၁၇.၆၇ ဧက (၇၁,၅၀၈ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၃၄,၃၂၃,၈၄၇ (တစ်နှစ် တစ်စတုရန်းမီတာလျှင် ၄၈၀ ကျပ်နှုန်း) |
| ၄။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်း မတည်ငွေရင်းပမာဏ | - ကျပ် ၁၀.၇၅၂ သန်း (အမေရိကန်ဒေါ်လာ ၄.၄၆ သန်း အပါအဝင်) |
| | **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
| | ငွေသား | ၇၀၀.၀၀၀ |
| | မြေတန်ဖိုး | ၆၄၀.၀၀၀ |
| | စက်ပစ္စည်း | ၇,၄၄၂.၀၀၀ (US$ ၄.၄၆ သန်း အပါအဝင်) |
| | ဆောက်လုပ်မှုကုန်ကျစရိတ် | ၉၀၀.၀၀၀ |
| | Installation Cost | ၅၇၄.၀၀၀ |
| | ပရိဘောဂတန်ဖိုး | ၄၉၆.၀၀၀ |
| | **စုစုပေါင်း** | **၁၀,၇၅၂.၀၀၀** |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း (၁၀၀%) |
| ၇။ | ရောင်းချမည့်အရေအတွက်နှင့် ဈေးနှုန်း | ရောင်းချမည့် အရေအတွက် (ကီလိုဝပ်နာရီ သန်းပေါင်း) ၃၉.၆၅၇ ; ဈေးနှုန်း (ကျပ်/ကီလို ဝပ်နာရီ) ၁၈၀ ; ရရှိမည့်ဝင်ငွေ (ကျပ်သန်း) ၇,၁၃၈.၃၆၈ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>ဦးရေ ၅၅ ဦး / ၂၀ ဦး<br>အမြင့်ဆုံးလစာ ကျပ် ၂,၀၀၀,၀၀၀ / US$ ၇၀၀<br>အနိမ့်ဆုံးလစာ ကျပ် ၁၅၀,၀၀၀ / US$ ၅၀၀ |
| ၉။ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထားအဖြစ် Vardaan Steel & Agro Science Limited မှ အုပ်ချုပ်မှုဒါရိုက်တာ ဒေါ်ကေခိုင်မြင့် အမည်ဖြင့် မြန်မာ့ရှေ့ဆောင်ဘဏ် ၌ ၃-၁၀-၂၀၁၈ ရက်နေ့ တွင် ကျပ် ၁၅,၇၂၅,၁၉၁.၈၇ ရှိကြောင်း အထောက်အထား များ ပူးတွဲတင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက် | -အတည်ပြုလျှောက်ထားလွှာနှင့်အတူ Vardaan Steel & Agro Science Limited ၏ ကုမ္ပဏီဖွဲ့စည်းမှတ်ပုံတင်လက်မှတ် နှင့် လုပ်ငန်းဆောင်ရွက်မည့် နေရာအတွက် Layout Plan အား တင်ပြထားပါ သည်။<br><br>-လုပ်ငန်းဆောင်ရွက်မည့် မြေနေရာအတွက် လယ်ယာမြေ အား အခြားနည်းဖြင့် အသုံးပြုခွင့်လျှောက်လွှာ ပုံစံ-၁၄ အား ၁၃-၂-၂၀၁၈ ရက်စွဲဖြင့် လည်းကောင်း၊ Vardaan Steel & Agro Science Limited နှင့် မြေပိုင်ရှင်ဒေါ်ကေခိုင်မြင့်တို့ အကြား ၁၁-၁၀-၂၀၁၈ ရက်နေ့တွင်ချုပ်ဆိုထားသည့် မြေငှား စာချုပ် (မူကြမ်း) အား လည်းကောင်းတင်ပြထားပါ သည်။<br><br>-လုပ်ငန်းမှထွက်ရှိမည့် လျှပ်စစ်ဓာတ်အားကို ဧရာဝတီတိုင်း ဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ဘုရားကလေးကျေး ရွာနှင့် ဂုံမင်းကွင်းကျေးရွာများရှိ ဆန်စက် ၁၁ ခုသို့ လျှပ်စစ် ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ပေးရန်အတွက် Vardaan Steel & Agro Science Limited သို့ လုပ်ငန်း |

| | | |
|---|---|---|
| | | အပ်နှံသည့် သဘောတူစာချုပ်ကို ၂၀၁၈ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့ရက်စွဲဖြင့် ချုပ်ဆိုထားကြောင်း တင်ပြထားပါသည်။<br>-ကုမ္ပဏီမှ ဘုရားကလေးကျေးရွာအုပ်စု၊ ဒေးဒရဲမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ဆန်စက်များသည် ကိုယ်ပိုင် generator များဖြင့် လျှပ်စစ်ဓာတ်အားကို အသုံးပြုနေရသဖြင့် ဆီဈေးကြီးမြင့်မှုအရ ကုန်ထုတ်လုပ်မှုစရိတ် တိုးမြင့်ရကြောင်း၊ ကုန်ထုတ်လုပ်မှုစရိတ် လျှော့ချနိုင်ရန် အတွက် ဈေးနှုန်းသက်သာသော ဇီဝလောင်စာသုံးလျှပ်စစ် ဓာတ်အား ဖြန့်ဖြူးပေးရန် ရည်ရွယ်ခြင်းဖြစ်ကြောင်း၊ National grid line ရောက်ရှိလာပါက လျှပ်စစ်နှင့်စွမ်း အင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ် ကြောင်း တင်ပြထားပါသည်။<br>-ဇီဝလောင်စာသုံး ဓာတ်အားပေးစက်ရုံနှင့် အခြားလောင်စာ သုံး ဓာတ်အားပေးစက်ရုံများ၏ သဘာဝပတ်ဝန်းကျင် ထိ ခိုက်မှု နှိုင်းယှဉ်ချက်ကိုလည်း တင်ပြထားပါသည်။<br>-အလုပ်သမားများအတွက် လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာအမှတ်-၁၃/၂၀၁၇အရ ဦးစားပေးမြှင့် တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ကြောင်း စိစစ် တွေ့ရှိရပါသည်။<br>-မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် (၁၅/၂၀၁၇) အရ သက်ဆိုင်ရာဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | -မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ၃၇ အရ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုမိန့်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(လ)/အ-၀၀၆/၂၀၁၈( ၄၁၈ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Vardaan Steel & Agro Science Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Vardaan Steel & Agro Science Limited မှ ဦးပိုင်အမှတ် (၁၃/၃၊ ၁၅/၃၊ ၂၅/၂၊ ၂၆/၁)၊ ဘုရားကလေးကွင်း၊ ကွင်းအမှတ် (၁၇၀)၊ ဘုရားကလေးကျေးရွာအုပ်စု၊ ဒေးဒရဲမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၁၇.၆၇ ဧကတွင် စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Vardaan Steel & Agro Science Limited ၏ ကုမ္ပဏီဖွဲ့စည်းမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာအတွက် Layout Plan ၊ မြေပိုင်ရှင် ဒေါ်ကေခိုင်မြင့် နှင့် Vardaan Steel & Agro Science Limited တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း) နှင့်အတူ မြေပိုင်ဆိုင်မှု အထောက်အထားများ ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းမှထွက်ရှိမည့် လျှပ်စစ်ဓာတ်အားကို ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ဘုရားကလေးကျေးရွာနှင့် ဂုံမင်းကွင်းကျေးရွာများရှိ ဆန်စက် ၁၁ ခုသို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ပေးရန်အတွက် Vardaan Steel & Agro Science Limited သို့ လုပ်ငန်းအပ်နှံသည့် သဘောတူစာချုပ်ကို ၂၀၁၈ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားကြောင်း တင်ပြထားပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၄.၄၆ သန်း အပါအဝင် ကျပ် ၁၀,၇၅၂.၀၀၀ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | စုစုပေါင်းကျပ်(သန်း) |
|---|---|
| ငွေသား | ၇၀၀.၀၀၀ |
| မြေတန်ဖိုး | ၆၄၀.၀၀၀ |
| စက်ပစ္စည်း | ၇,၄၄၂.၀၀၀ (US$ ၄.၄၆ သန်း အပါအဝင်) |
| ဆောက်လုပ်မှုကုန်ကျစရိတ် | ၉၀၀.၀၀၀ |
| Installation Cost | ၅၇၄.၀၀၀ |
| ပရိဘောဂတန်ဖိုး | ၄၉၆.၀၀၀ |
| **စုစုပေါင်း** | **၁၀,၇၅၂.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း ၅၅ ဦး နှင့် ပြည်ပဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာမှာ ၂,၀၀၀,၀၀၀ ကျပ် ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၇၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား(ပထမနှစ်)တွင် ကီလိုဝပ်နာရီ သန်းပေါင်း ၃၉.၆၅၇ ထုတ်လုပ်မည်ဖြစ်ပြီး ဓာတ်အား တစ်ယူနစ်လျှင် ၁၈၀ ကျပ်နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးသို့ ၁၂-၁၁-၂၀၁၈ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံထားပါသည်။ Vardaan Steel & Agro Science Limited သည် ပြည်တွင်းစိုက်ပျိုးရေးကဏ္ဍဆိုင်ရာ စီးပွားရေးလုပ်ငန်းများတွင် market share များစွာ ရရှိထားသော မြန်မာနိုင်ငံသားပိုင် ကုမ္ပဏီဖြစ်ပါသည်။ မိမိ၏ customer များနှင့် စီးပွားရေးလုပ်ငန်းများ ရေရှည်လက်တွဲလုပ်ကိုင်နိုင်ရန်အတွက်လည်းကောင်း၊ Agricultural Product များမှ ထွက်ရှိလာသော စပါးခွံကို လျှပ်စစ်ဓာတ်အားထုတ်လုပ်ပေးခြင်းဖြင့် customer များအတွက် အထောက်အပံ့ဖြစ်စေရန်အတွက်လည်းကောင်း စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အားပေးလုပ်ငန်း လုပ်ကိုင်ရခြင်းဖြစ်ကြောင်း တင်ပြထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Vardaan Steel & Agro Science Limited မှ အုပ်ချုပ်မှုဒါရိုက်တာ ဒေါ်ကေခိုင်မြင့်အမည်ဖြင့် မြန်မာ့ရှေ့ဆောင်ဘဏ်၌ ၃-၁၀-၂၀၁၈ ရက်နေ့တွင် ကျပ် ၁၅,၇၂၅,၁၉၁.၈၇ ရှိကြောင်း တင်ပြ ထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အသေးစားလျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများအား ကရင်ပြည်နယ်တွင် Green Alliance Energy Co., Ltd. အားလည်းကောင်း၊ မွန်ပြည်နယ်တွင် Myat Thura Industry Co., Ltd.၊ South East General Energy & Power Co., Ltd. နှင့် တနင်္သာရီတိုင်းဒေသကြီးတွင် Min Zar Ni Fisheries Co., Ltd. တို့အားလည်းကောင်း ကော်မရှင်မှ အတည်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Vardaan Steel & Agro Science Limited မှ စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ